# ကန့်သတ်

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ECTerra Agriculture Company Limited မှ စပါး၊ ပြောင်း၊ ပဲအမျိုးမျိုး၊ ကြံ၊ ဆီထွက်သီးနှံများနှင့် အခြား စီးပွားဖြစ်သီးနှံများ အပါအဝင် စိုက်ပျိုးရေးထွက်ကုန်များ စိုက်ပျိုး ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာ ခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - ECTerra Agriculture Company Limited |
| | ကမကထပြုသူ | - ECTerra Pyay Pte. Ltd. |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>ECTerra Pyay Pte. Ltd.<br>(Singapore) ၆၀%<br>Shwe Pyay Myay Company Limited<br>(မြန်မာနိုင်ငံ) ၄၀% |
| | လုပ်ငန်းအမျိုးအစား | - စပါး၊ ပြောင်း၊ ပဲအမျိုးမျိုး၊ ကြံ၊ ဆီထွက်သီးနှံများနှင့် အခြား စီးပွားဖြစ်သီးနှံများ အပါအဝင် စိုက်ပျိုးရေးထွက်ကုန်များ စိုက်ပျိုးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ကံကြီးကုန်း၊ ကွင်းကြီး၊ ကြို့ပင်ဝိုင်း၊ ဝါးရုံဆိပ်၊ ကျောသာ၊ မအူတော၊ ပျဉ်းမအိုင်နှင့် တဲကုန်းကျေးရွာအုပ်စု ပေါက်ခေါင်းမြို့နယ်၊ ပြည်မြို့နယ်၊ ပဲခူးတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးအောင်မိုးကျော်၊ ဦးဝင်းစိန်၊ ဦးမြင့်ရွှေ |
| | မြေအကျယ်အဝန်း | - စုစုပေါင်းမြေဧရိယာ ၃၉၉၅.၆၂ဧက |

| စဉ် | ကျေးရွာအုပ်စု | ကွင်း အမှတ် | မြေအမျိုးအစား | | စုစုပေါင်း ဧက |
|---|---|---|---|---|---|
| | | | လယ် | ယာ | |
| က | ကံကြီးကုန်း | ၂၇၇/၂၇၃ | ၅၆.၇၈ | ၂၁၉.၄၅ | ၂၇၆.၂၃ |
| ခ | ကွင်းကြီး | ၂၁၈[B] | ၅၈.၁၃ | ၄.၅၀ | ၆၂.၆၃ |
| ဂ | ကြို့ပင်ဝိုင်း | ၈၅၁/၈၄၉/၈၅၀[A] | | ၈၆၄.၂၆ | ၈၆၄.၂၆ |
| ဃ | ဝါးရုံဆိပ် | ၂၈၁[A]/၂၈၀/၂၈၂ | ၁၆၅.၉၅ | ၁၅၅.၆၇ | ၃၂၁.၆၂ |
| င | ကျောသာ | ၂၇၉/၃၅၇[B]/၃၅၇/၃၅၃/၃၅၂/၃၅၀/OSS/၃၅၇[A] | ၅၄၃.၅၃ | ၁၂၅၉.၇၀ | ၁၈၀၃.၂၃ |
| စ | မအူတော | ၃၅၈/၃၆၁/၃၆၀/၃၆၁[A] | ၂၈၈.၆၅ | ၁၄၂.၆၉ | ၄၃၁.၃၄ |
| ဆ | ပျဉ်းမအိုင် | ၃၄၇[C]/၃၄၉ | ၂၁၄.၉၄ | | ၂၁၄.၉၄ |
| ဇ | တဲကုန်း | ၇၉၁ | ၁၄.၅၀ | ၆.၉၀ | ၂၁.၄၀ |
| | စုစုပေါင်း | | ၁၃၄၂.၄၈ | ၂၆၅၃.၁၄ | ၃၉၉၅.၆၅ |

ကန့်သတ်

၄။ နှစ်စဉ်မြေငှားရမ်းခ
- အမေရိကန်ဒေါ်လာ ၁၀၀၀၀
- (တစ်နှစ်တစ်ဧကလျှင် အမေရိကန်ဒေါ်လာ ၂.၅ နှုန်း)

မြေငှားရမ်းကာလ
- ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ်

၅။ လုပ်ငန်းသက်တမ်း
- ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ်

တည်ဆောက်ရေးကာလ
- ၂နှစ်

၆။ စုစုပေါင်းမတည်ငွေရင်းပမာဏ
- အမေရိကန်ဒေါ်လာ ၅.၆၅၀ သန်း

US$ သန်း

| | ပြည်ပ | ပြည်တွင်း | ချေးငွေ | စုစုပေါင်း |
|---|---|---|---|---|
| ငွေသား | ၀.၀၇၅ | | ၄.၄၀၀ | ၄.၄၇၅ |
| စက်ပစ္စည်းကိရိယာများ | ၀.၆၇၅ | | | ၀.၆၇၅ |
| မြေငှားရမ်းခ | | ၀.၅၀၀ | | ၀.၅၀၀ |
| **စုစုပေါင်း** | ၀.၇၅၀ | ၀.၅၀၀ | ၄.၄၀၀ | ၅.၆၅၀ |

၇။ ဝန်ထမ်းအင်အား
- **၄၃ ဦး**

ပြည်တွင်း
- ၄၀ ဦး(ပြည်တွင်းဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၉၂ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၁၅၀၀ ဖြစ်ပါသည်။)

ပြည်ပ
- ၃ဦး(ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၆၆၇ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၂၀၀၀ ဖြစ် ပါသည်။)

၈။ ရောင်းချမည့်စနစ်
- ပြည်တွင်း ၁၀၀%

နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (US$/MT) |
|---|---|---|---|
| (က) | Sorghum | ၁,၄၂၄ | ၃၀၀ |
| (ခ) | Sugar Cane | ၂၂,၇၇၆ | ၃၂ |
| (ဂ) | Mung Bean | ၅၆၉ | ၇၅၀ |

၉။ လျှပ်စစ်မီးအားသုံးစွဲမှု (နှစ်စဉ်)
- ၆၀,၃၄၀kWh

| | | |
|---|---|---|
| ၁၀။ | အခြားတင်ပြချက် | - ECTerra Pyay Pte. Ltd.နှင့် Shwe Pyay Myay Company Limited တို့ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း) နှင့် ဦးအောင်မိုးကျော်၊ ဦးဝင်းစိန်၊ ဦးမြင့်ရွှေ နှင့် ECTerra Agriculture Company Limitedတို့အကြား ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)များအား တင်ပြထားပါသည်။<br>- မြေအထောက်အထားအဖြစ် ဦးအောင်မိုးကျော်၊ ဦးဝင်းစိန်၊ ဦးမြင့်ရွှေအမည်ဖြင့် ရရှိထားသည့် လယ်ယာမြေလုပ်ပိုင်ခွင့် လက်မှတ်ပုံစံ(၇)များအား တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် ECTerra Pyay Pte. Ltd.အမည်ဖြင့် စင်္ကာပူနိုင်ငံ UOB Bank တွင် ၃၁-၈-၂၀၁၇ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၄၆၂၆.၅၃ ရှိကြောင်းနှင့် Shwe Pyay Myay Company Limited အမည်ဖြင့် ကမ္ဘောဇ ဘဏ်တွင် ၃၁-၁-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၁၂၂,၄၈၇,၇၅၀ ရှိ ကြောင်း ငွေကြေးအထောက်အထား တင်ပြ ထားပါသည်။<br>- ECTerra Pyay Pte. Ltd.နှင့် Shwe Pyay Myay Company Limited ၏ ၂၀၁၆-၂၀၁၇ Financial Statement အား တင်ပြ ထားပါသည်။<br>- ECTerra Pyay Pte. Ltd.နှင့် Shwe Pyay Myay Company Limited ၏ကုမ္ပဏီမှတ်ပုံတင် မိတ္တူများအား တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူး လက်မှတ် မိတ္တူများ တင်ပြထားပါသည်။<br>- ECTerra Agruculture Company Limited၏ MOA, AOA (မူကြမ်း) အား တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်း ကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရန် အတွက် MyAsia Consulting Co.,Ltd.နှင့် ဆောင်ရွက် ထားသည့် EIA Report အား တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | - စုစုပေါင်းမတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ ၅.၆၅သန်းဖြစ်ပြီး EC Terra Pyay Pte. Ltd.ထံ မှ အစုရှယ်ယာရှင်ချေးငွေ အမေရိကန်ဒေါ်လာ ၄.၄ သန်းချေးယူမည်ဖြစ်ပါသည်။<br>- နှစ် ၅၀ မြေငှားရမ်းခ ရရှိငွေ အမေရိကန်ဒေါ်လာ ၅၀၀၀၀၀ အား ဦးအောင်မိုးကျော်၊ ဦးဝင်းစိန်၊ ဦးမြင့်ရွှေတို့မှ ရှယ်ယာထည့်ဝင်ငွေ မတည်ငွေရင်းအဖြစ် ထည့်ဝင်မည်ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ခ-၀၁၉/၂၀၁၈(၁၇၈)
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် မတ်လ ၃၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ECTerra Agriculture Company Limited မှ စပါး၊ ပြောင်း၊ ပဲအမျိုးမျိုး၊ ကြံ၊ ဆီထွက်သီးနှံများနှင့် အခြား စီးပွားဖြစ်သီးနှံများ အပါအဝင် စိုက်ပျိုးရေးထွက်ကုန်များ စိုက်ပျိုး ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာ ခြင်းကိစ္စ**

၁။ စင်္ကာပူနိုင်ငံ ECTerra Pyay Pte. Ltd. မှ (၆၀%)နှင့် မြန်မာနိုင်ငံမှ Shwe Pyay Myay Company Limited မှ (၄၀%) အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဖြင့် မြန်မာနိုင်ငံတွင် ECTerra Agriculture Company Limited တည်ထောင်ပြီး ကံကြီးကုန်း၊ ကွင်းကြီး၊ ကြို့ပင်ဝိုင်း၊ ဝါးရုံဆိပ်၊ ကျောသာ၊ မအူတော၊ ပျဉ်းမအိုင်နှင့် တဲကုန်းကျေးရွာအုပ်စု ပေါက်ခေါင်းမြို့ နယ်၊ ပြည်မြို့နယ်၊ ပဲခူးတိုင်းဒေသကြီး အတွင်းရှိ စုစုပေါင်းမြေဧရိယာ ၃၉၉၅.၆၅ ဧကကို ငှားရမ်း၍ စပါး၊ ပြောင်း၊ ပဲအမျိုးမျိုး၊ ကြံ၊ ဆီထွက်သီးနှံများနှင့် အခြားစီးပွားဖြစ် သီးနှံများ အပါအဝင် စိုက်ပျိုးရေး ထွက်ကုန်များ စိုက်ပျိုးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဦးမြင့်ရွှေ၊ ဦးအောင်မိုးကျော်၊ ဦးဝင်းစိန်နှင့် မြေငှားသူ ECTerra Agriculture Company Limited တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)များ၊ မြေအထောက် အထားများ၊ ECTerra Pyay Pte. Ltd. နှင့် Shwe Pyay Myay Company Limited တို့ချုပ် ဆိုမည့် ဖက်စပ်စာချုပ်(မူကြမ်း)တို့အား တင်ပြထားပါသည်။

၃။ မြေငှားစာချုပ်များအရ မြေငှားသက်တမ်းမှာ၅၀နှစ်ဖြစ်ပါသည်။ မြေအကျယ်အဝန်း မှာ စုစုပေါင်းမြေဧရိယာ ၃၉၉၅.၆၅ဧက ဖြစ်ပြီး မြေငှားရမ်းခမှာ တစ်နှစ် တစ်ဧကလျှင်ပျမ်းမျှ အမေရိကန် ဒေါ်လာ ၂.၅နှုန်း ဖြစ်ပါသည်။ လုပ်ငန်းစီမံကိန်း ကာလမှာကနဦး ၅၀နှစ် ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ ၂နှစ် ကြာမြင့်မည် ဖြစ်ကြောင်းတင်ပြ ထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၅.၆၅ သန်း ဖြစ်ပြီး EC Terra Pyay Pte. Ltd.ထံ မှ အစုရှယ်ယာရှင်ချေးငွေ အမေရိကန်ဒေါ်လာ ၄.၄၀ သန်းချေးယူမည်ဖြစ် ပါ သည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်။

US$ သန်း

| | ပြည်ပ | ပြည်တွင်း | ချေးငွေ | စုစုပေါင်း |
|---|---|---|---|---|
| ငွေသား | ၀.၀၇၅ | | ၄.၄၀၀ | ၄.၄၇၅ |
| စက်ပစ္စည်း ကိရိယာများ | ၀.၆၇၅ | | | ၀.၆၇၅ |
| မြေငှားရမ်းခ | | ၀.၅၀၀ | | ၀.၅၀၀ |
| **စုစုပေါင်း** | ၀.၇၅၀ | ၀.၅၀၀ | ၄.၄၀၀ | ၅.၆၅၀ |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၄၀ ဦးနှင့် ပြည်ပဝန်ထမ်း ၃ ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၄၃ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၉၂ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၅၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၆၆၇ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၂၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်တွင်းဈေးကွက်သို့ ရောင်းချမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်ရှိ ပြည်တွင်း ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါ အတိုင်းဖြစ်ပါသည်။

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (US$/MT) |
|---|---|---|---|
| က | Sorghum | ၁,၄၂၄ | ၃၀၀ |
| ခ | Sugar Cane | ၂၂,၇၇၆ | ၃၂ |
| ဂ | Mung Bean | ၅၆၉ | ၇၅၀ |

၇။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထား ပါသည်-

(က) **ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ** ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** မှ ကန့်ကွက်ရန် မရှိပါကြောင်းနှင့် **ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ** အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကိုဆောင် ရွက်ရန်လိုအပ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက် တွဲ-ခ**

(ဂ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ** ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက် တွဲ-ဂ**

၈။ ငွေရေးကြေးရေး အထောက်အထားအဖြစ် ECTerra Pyay Pte. Ltd.အမည်ဖြင့် စင်္ကာပူနိုင်ငံ UOB Bank တွင် ၃၁-၈-၂၀၁၇ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၆၂၄၅.၈၂ ရှိကြောင်းနှင့် Shwe Pyay

Myay Company Limited အမည်ဖြင့် ကမ္ဘောဇဘဏ်တွင် ၃၁-၁-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၁၂၂,၄၈၇,၇၅၁ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြ ထားပါသည်။ ECTerra Pyay Pte. Ltd.နှင့် Shwe Pyay Myay Company Limited ၏ ၂၀၁၆-၂၀၁၇ Financial Statementအား တင်ပြ ထားပါသည်။

၉။ ECTerra Agriculture Company Limited မှ အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်း ကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရန် အတွက် MyAsia Consulting Co.,Ltd.နှင့် ဆောင်ရွက် ထားသည့် EIA Report အား တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ် ပါသည်-

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၆(က)အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသည် ကော်မရှင် ခွင့်ပြုမိန့် ရယူရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အမျိုးအစား ဖြစ်ပါသည်။

(ခ) ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ ကုမ္ပဏီအနေဖြင့် ခွင့်ပြုချက်မရရှိမီ မြေပြင်တွင် လုပ်ငန်းဆောင်ရွက်နေပြီဖြစ်၍ အဆိုပြုတင်ပြချက်အပေါ် သဘောမတူပါကြောင်းသဘောထားပြန်ကြားလာသဖြင့် အဆိုပြုချက်အား ပြန်လည်ပေးပို့ခဲ့ရာ ယခုအခါပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ ခွင့်ပြုကြောင်း သဘောထား ပြန်ကြားလာသဖြင့် ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်တင်ပြလာခြင်း ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ ECTerra Agriculture Company Limited မှ စပါး၊ ပြောင်း၊ ပဲအမျိုးမျိုး၊ ကြံ၊ ဆီထွက်သီးနှံများနှင့် အခြားစီးပွားဖြစ်သီးနှံများ အပါအဝင် စိုက်ပျိုးရေးထွက်ကုန်များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့
ပဲခူးမြို့

စာအမှတ်၊ ၈ / ၁ - ၁၂ / ဦး ၈ (၆၁၀၁)
ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ ဩဂုတ်လ ၁၇ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၅.၅.၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရက - ၂ / န - ၁၃၃ / ၂၀၁၆ (၄၃၆)
(၂) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၃၀.၁၁.၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၈ / ၁ - ၁၂ / ဦး ၈(၃၃၂)
(၃) Shwe Pyay Myay Company Limited.၏(၂၄.၆.၂၀၁၇) ရက်စွဲပါ တင်ပြစာ

၁။ မြန်မာနိုင်ငံ Shwe Pyay Myay Company Limited.(SPMC)မှ (၂၀%)နှင့် စင်္ကာပူ နိုင်ငံ ECTerra Pyay Pte. Limited.(EPPL)မှ (၈၀%) အစုရှယ်ယာများထည့်ဝင်ကာ မြန်မာနိုင်ငံတွင် ECTerra Agriculture Company Limited.တည်ထောင်၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ပြည်မြို့နှင့် ပေါက်ခေါင်းမြို့နယ်ရှိ စုစုပေါင်းလယ်ယာမြေ(၃၉၉၅.၆၂)ဧကအား ငှားရမ်းပြီး စပါး၊ ပြောင်း၊ ပဲအမျိုးမျိုး၊ ကြံ၊ ဆီထွက်သီးနှံစသည့် စိုက်ပျိုးရေးထွက်ကုန်များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုတင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ **ရည်ညွှန်းစာ(၁)ဖြင့်** ညှိနှိုင်းအကြောင်းကြားလာမှုနှင့် ပတ်သက်၍ (၁၈.၁၁.၂၀၁၆)ရက်နေ့တွင် ပြုလုပ်သော ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ (Cabinet)အစည်းအဝေး အမှတ်စဉ်(၁၁/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်၆(န)အရ ကုမ္ပဏီအနေဖြင့် ခွင့်ပြုချက်မရှိမီမြေပြင်တွင် လုပ်ငန်းဆောင်ရွက်နေပြီဖြစ်၍ အဆိုပြုတင်ပြချက်အပေါ် သဘောမတူပါကြောင်း **ရည်ညွှန်းစာ (၂)ဖြင့်** သဘောထားပြန်ကြားခဲ့ပါသည်။

၂။ မြန်မာနိုင်ငံ Shwe Pyay Myay Company Limited.(SPMC)မှ(၄၀%)၊ စင်္ကာပူ နိုင်ငံ ECTerra Pyay Pte. Limited.(EPPL)မှ(၆၀%) အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်

2017 New (Head Office) 18

နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ပြည်မြို့နှင့်ပေါက်ခေါင်းမြို့နယ်ရှိ စုစုပေါင်းလယ်ယာမြေ(၃၉၉၅.၆၂) ဧကအား ငှားရမ်းပြီး စပါး၊ ပြောင်း၊ ပဲအမျိုးမျိုး၊ ကြံ၊ ဆီထွက်သီးနှံစသည့် စိုက်ပျိုးရေးထွက်ကုန်များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အသစ်ပြဌာန်းထားသော ဥပဒေအရ ခွင့်ပြုမိန့်ပြန်လည်လျှောက်ထားနိုင်ရေးအတွက် ပြန်လည်စဉ်းစား၍ ခွင့်ပြုပေးနိုင်ပါရန်နှင့် ခွင့်ပြုချက်ရရှိပါက နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ခေတ်မီနည်းပညာများအား အသုံးပြု၍ တိုးချဲ့လုပ်ကိုင်နိုင်မည်ဖြစ်သောကြောင့် မြန်မာနိုင်ငံအတွက် အကျိုးရှိသောလုပ်ငန်းဖြစ်ကြောင်း၊ ကြံစိုက်ပျိုးခြင်းသည် ကုမ္ပဏီ၏ အဓိကလုပ်ငန်းဖြစ်ပြီး ကုန်ချောကို ပြည်တွင်းသာမက နိုင်ငံခြားတင်ပို့နိုင်ပါက နိုင်ငံခြားဝင်ငွေရရှိနိုင်မည်ဖြစ်ပါကြောင်း Shwe Pyay Myay Company Limited.မှ **ရည်ညွှန်းစာ(၃)ဖြင့်** တင်ပြလာပါသည်။

၂။ အဆိုပါကိစ္စနှင့် ပတ်သက်၍ (၃၁.၇.၂၀၁၇)ရက်နေ့တွင် ပြုလုပ်သော ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့ (Cabinet)အစည်းအဝေးအမှတ်စဉ်(၁၀/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် ၄(ဂ)အရ အဆိုပြုလုပ်ငန်းအား မြန်မာနိုင်ငံ Shwe Pyay Myay Company Limited.(SPMC)မှ (၄၀%)၊ စင်္ကာပူနိုင်ငံ ECTerra Pyay Pte. Limited.(EPPL)မှ (၆၀%)ဖြင့် အစုရှယ်ယာများထည့်ဝင်ပြီး မြန်မာနိုင်ငံတွင် ECTerra Agriculture Company Limited တည်ထောင်၍ ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်ဆောင်ရွက်ပြီး သက်ဆိုင်ရာဌာနများ၏ ဥပဒေလုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များအား လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

17.8.2017

ဝန်ကြီးချုပ်(ကိုယ်စား)
ဦးညွန့်ရွှေ၊ ဝန်ကြီး
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

**မိတ္တူကို**

ECTerra Agriculture Company Limited.
မျှောစာတွဲ
လက်ခံစာတွဲ

MIC, 213/17/16

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /၁၁(၁၈၀/၁၆ )
ရက် စွဲ၊ ၂၀၁၆ခုနှစ် ဇွန် လ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ECTerra Agriculture Company Limited မှ စပါး၊ ပြောင်း၊ ပဲအမျိုးမျိုး၊ ကြံ၊ ဆီထွက်သီးနှံ စသည့်စိုက်ပျိုးရေးထွက်ကုန်များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅-၅-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၂/ န-၁၃၃/ ၂၀၁၆(၄၃၇)

၁။ မြန်မာနိုင်ငံ Shwe Pyay Myay Company Limited မှ ၂၀% နှင့် စင်္ကာပူနိုင်ငံ ECTerra Pyay Pte. Limitedမှ ၈၀%အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် ECTerra Agriculture Company Limited တည်ထောင်၍ ပဲခူးတိုင်းဒေသကြီး၊ ပြည်မြို့နှင့်ပေါက်ခေါင်းမြို့နယ်ရှိ စုစုပေါင်းလယ်ယာမြေ (၃၉၉၅.၆၂)ဧကအားငှားရမ်း၍စပါး၊ ပြောင်း၊ ကြံ၊ ဆီထွက်သီးနှံများ စသည့်စိုက်ပျိုးရေးထွက်ကုန်များစိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန်ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ECTerra Agriculture Company Limited မှ စိုက်ပျိုးရေးလုပ်ငန်းများဆောင်ရွက်ရန်အတွက် မြေပြုပြင်ခြင်း၊ သစ်ပင်ချုံပင်များခုတ်ထွင်၍မီးရှို့ရှင်းလင်းခြင်းကြောင့် မြေဆီလွှာအရည်အသွေးကျဆင်းစေနိုင်ခြင်း၊ ဇီဝမျိုးစုံမျိုးကွဲများတို့၏ နေထိုင်ကျက်စားရာနေရာများပျက်စီးဆုံးရှုံးစေနိုင်ခြင်း၊ ဓါတုဓါတ်မြေဩဇာနှင့်ပိုးသတ်ဆေးများကို အလွန်အကျွံသုံးစွဲပါကမြေဆီလွှာ၏အရည်အသွေးကို ယိုးယွင်းပျက်စီးစေနိုင်ခြင်း၊ လေထုညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း၊ မြေကြီးအတွင်းသို့ စိမ့်ဝင်ရာမှ မြေအောက်ရေထုကို ညစ်ညမ်းစေနိုင်ခြင်း၊ အချို့သောပိုး

သတ်ဆေးနှင့်ဓါတုမြေသြဇာများသည် ပတ်ဝန်းကျင်၌ကြာရှည်စွာတည်ရှိနိုင်ပြီးရေတွင်ပျော်ဝင်မှုနည်းပါးသဖြင့် ပါဝင်သော Chemical composition များအပေါ်မူတည်၍ အစာကွင်းဆက်များအတွင်းသို့ရောက်ရှိကာ ပတ်ဝန်းကျင်ရှိလူနှင့်တိရစ္ဆာန်တို့၏ ကျန်းမာရေးကိုထိခိုက်စေနိုင်ခြင်း၊ ပိုးသတ်ဆေးများကို စနစ်တကျကိုင်တွယ်အသုံးပြုခြင်းမရှိပါက အလုပ်သမားများ၏ ကျန်းမာရေးအားထိခိုက်စေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်စေနိုင်ပါသည်။

၃။ သို့ဖြစ်ပါ၍ ECTerra Agriculture Company Limitedမှ စပါး၊ ပြောင်း၊ ပဲအမျိုးမျိုး၊ ကြံ၊ ဆီထွက်သီးနှံ စသည့်စိုက်ပျိုးရေးထွက်ကုန်များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိုစွန့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့်ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Coporate Social Responsibility-CSR )အတွက် အသားတင်အမြတ်ငွေ၏ (၂%)ကိုအသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း** (Environmental Impact Assessment-EIA) ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီ အစီရင်ခံရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး

ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** ( Environmental Management Plan – EMP )အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

( င ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

(ဇော်မိုး)

ဒုတိယညွှန်ကြားရေးမှူး

အဖွဲ့ခေါင်းဆောင်

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး

ရုံးလက်ခံ

နောက်ဆက်တွဲ-၈

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

MPF-1501
21.6.2010

စာအမှတ်၊ ၁၁/ EC Terra (၃၀၄/၂၀၁၀)(လဆ)
ရက်စွဲ၊၂၀၁၀ ခုနှစ်၊ ဇွန်လ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၅.၅.၂၀၁၀) ရက်စွဲပါ စာအမှတ် ရက -၂/န-၁၃၃ /၂၀၁၀ (၄၃၈)

၁။ မြန်မာနိုင်ငံ Shwe Pyay Myay Company Limited မှ ၂၀ % နှင့်စင်ကာပူ ECT Terra Pyay Pte Limited မှ ၈၀% အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် ECT Terra Agriculture Company Limited တည်ထောင်၍ပဲခူးတိုင်းဒေသကြီးပြည်မြို့နှင့်ပေါက်ခေါင်းမြို့နယ်ရှိ စုစုပေါင်းလယ်ယာမြေ(၃၉၉၅.၆၂)ဧက အားငှားရမ်း၍စပါး၊ ပြောင်း၊ ပဲအမျိုးမျိုး၊ ကြံ၊ ဆီထွက်သီးနှံများစသည့် စိုက်ပျိုးရေးထွက်ကုန်များစိုက်ပျိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြလာခြင်းအပေါ် MIC မှ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန ၏ သဘောထားမှတ်ချက်အားပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ ယင်းကိစ္စနှင့်ပတ်သက်၍ အဆိုပြုတင်ပြသည့်မြေနေရာများသည် ၂၀၁၂ခုနှစ်၊ လယ်ယာမြေဥပဒေအရ လယ်ယာမြေလုပ်ကိုင်ခွင့်ပြုလက်မှတ် ပုံစံ(၇) ရရှိထားပြီးဖြစ်သည့်အတွက် လယ်ယာမြေဥပဒေပုဒ်မ (၁၂) နှင့် (၁၄) ပါပြဋ္ဌာန်းချက်များနှင့်အညီဆောင်ရွက်ရန် နှင့် မျိုးစေ့ဥပဒေ လုပ်ထုံးလုပ်နည်းနှင့်အညီလိုက်နာဆောင်ရွက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သက်နိုင်ဦး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူ။

- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ စီမံကိန်းဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ လယ်ယာမြေစီမံခန့်ခွဲရေး နှင့် စာရင်းအင်းဦးစီးဌာန
- ရုံးလက်ခံ / မျှောစာတွဲ